ကုမ္ပဏီအမည် - DHL Supply Chain Myanmar Ltd.

လုပ်ငန်း: -**ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Supply Chain Management, Logistics and Warehousing Services ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့်နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | ကုမ္ပဏီမှအဆိုပြုလွှာတင်ပြလာခြင်း | ၁၂-၁၂-၂၀၁၆ | | |
| ၂ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး ၄/၂၀၁၇ သို့တင်ပြခြင်း | ၂၃-၁-၂၀၁၇ | | |
| ၃ | အဆိုပြုချက်စိစစ်ရေးအဖွဲ့အစည်းအဝေး ဆုံးဖြတ်ချက်ပေးပို့ခြင်း | ၂-၂-၂၀၁၇ | | |
| ၆ | **သဘောထားမှတ်ချက်တောင်းခံခြင်း** | | | |
| | (က) ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့ | ၁၃-၂-၂၀၁၇ | ၂၈-၂-၂၀၁၇ | |
| | (ခ) သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန | ၁၃-၂-၂၀၁၇ | ၁၇-၂-၂၀၁၇ | |
| | (ဂ) ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန | ၁၃-၂-၂၀၁၇ | ၂၄-၂-၂၀၁၇ | |
| | (ဃ) မြန်မာနိုင်ငံတော်ဗဟိုဘဏ် | ၁၃-၂-၂၀၁၇ | ၇-၃-၂၀၁၇ | |
| ၇ | ကုမ္ပဏီသို့ဌာနဆိုင်ရာသဘောထားမှတ်ချက်များ အရပြင်ဆင်တင်ပြရန်အကြောင်းကြားခြင်း | ၂၃-၂-၂၀၁၇ | | |
| ၈ | ကုမ္ပဏီမှလိုအပ်ချက်များပြင်ဆင်တင်ပြလာခြင်း | ၁၅-၅-၂၀၁၇ | | |
| ၉ | ကော်မရှင်အစည်းအဝေးသို့တင်ပြခြင်း ( ၈ /၂၀၁၇)MIC | (၁၉-၅-၂၀၁၇) | | |
| | **စုစုပေါင်းကြာမြင့်ရက် ၁၅၈ ရက်** | | | |

DHL Supply Chain Myanmar Ltd. မှ ရာနိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့်
Supply Chain Management, Logistics and Warehousing Services လုပ်ငန်းအား
ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းနှင့်စပ်လျဉ်း၍
PAT ၏ ဆွေးနွေးချက်၊ ဆုံးဖြတ်ချက်အပေါ်ဆောင်ရွက်မှု

| စဉ် | ကုမ္ပဏီအမည် | လုပ်ငန်း အမျိုးအစား | PAT အကြိမ် နေ့စွဲ | ဆွေးနွေးချက်မှ ပြင်ဆင်ရန်လိုအပ်ချက် | ဆောင်ရွက် ပြီးစီးမှု | မှတ်ချက် |
|---|---|---|---|---|---|---|
| ၁ | ၂ | ၃ | ၄ | ၅ | ၆ | ၇ |
| ၁။ | DHL Supply Chain Myanmar Ltd. | Supply Chain Management,Logistics and Warehousing Services | ၄/၂၀၁၇<br>၂၃-၁-၂၀၁၇ | (က)မြေငှားစာချုပ်အားပြင်ဆင်တင်ပြရန် | ပြင်ဆင်ပြီး | |

| | |
|---|---|
| ကုမ္ပဏီအမည် | DHL Supply Chain Myanmar Ltd. |
| အဖွဲ့အစည်းပုံသဏ္ဍာန် | ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Supply Chain Management, Logistics and Warehousing Services လုပ်ငန်း |
| တည်နေရာ | ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်စက်မှုဇုန်၊ ၁၀ လမ်း၊ မြေကွက် အမှတ်-၃၅၉ ရှိ ၄.၇၉ ဧက |
| စုစုပေါင်းမတည်ငွေရင်း | အမေရိကန် ဒေါ်လာ ၁၁၃.၉၃ သန်း |
| လုပ်ငန်းသက်တမ်း | ၅၀နှစ် |
| အရင်းကြေကာလ | ၉ နှစ် |
| IRR | ၇.၂ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစုတင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၃.၀၀သန်း (တစ်နှစ်) | - |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၀.၅၀ သန်း |
| ၃ | သွင်းကုန်အခွန်<br>ကင်းလွတ်ခွင့် | - | - |
| ၄ | ဝင်ငွေခွန် | ကျပ် ၇.၀၈ သန်း | ကျပ် ၂၆.၅၂ သန်း |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | - | ကျပ် ၁၃.၃၇ သန်း |
| ၆ | လျှပ်စစ်မီးသုံးစွဲခ | - | - |
| ၇ | လုပ်ခလစာအပေါ် ဝင်ငွေခွန် | - | ကျပ် ၄.၂၃ သန်း<br>တစ်နှစ်ဝင်ငွေကျပ် သိန်း(၄၈) ကျော်ပါကအခွန်ပေးရမည့် ဝန်ထမ်း (၁၁) ဦး |
| ၈ | CSR(၂%) | - | ကျပ် ၁.၂၀ သန်း |
| ၉ | မြေငှားရမ်းခငွေ | - | - |
| ၁၀ | အလုပ်အကိုင် အခွင့်အလမ်း | - | ပြည်တွင်းလုပ်သား (၆၁)ဦး<br>ပြည်ပ ၃ ဦး<br>အလုပ်အကိုင် ရရှိမည်ဖြစ်၍ ဒေသအလုပ်အကိုင် အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုကိုအထောက် အကူပြုစေပါသည်။ |
| | | ကျပ် ၁၀.၀၈ သန်း | ကျပ် ၄၅.၈၃ သန်း |
| | | ၁ : ၄ | |

## DHL Supply Chain Myanmar Ltd. မှ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Supply Chain Management, Logistics and Warehousing Services နှင့်စပ်လျဉ်းသည့်အဓိကအချက်များ

| | | |
|---|---|---|
| ၁။ | ကုမ္ပဏီအမည်/<br>ကမကထပြုသူ<br>အဖွဲ့အစည်းပုံသဏ္ဌာန်<br><br><br>လုပ်ငန်းအမျိုးအစား | - DHL Supply Chain Myanmar Ltd.<br>- Mr. Kevin Stuart Burrell<br>- ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု<br>- Deutsche Post International B.V (Netherland) မှ ၉၉ %<br>- Exel Investment Netherlands B.V(Netherland) မှ ၁%<br>- Supply Chain Management, Logistics and Warehousing Services |
| ၂။ | တည်နေရာ<br><br>မြေပိုင်ရှင်<br>မြေအကျယ်အဝန်း<br>အဆောက်အအုံအကျယ်အဝန်း<br>မြေငှားရမ်းကာလ | - မြေကွက်အမှတ်-၃၅၉၊ ၁၀ လမ်း၊ ရန်ကုန်စက်မှုဇုန်၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး<br>- ဒေါ်အေးအေးမြင့်<br>- ၄.၇၉ ဧက (၁၉,၃၈၅ စတုရန်းမီတာ)<br>- ၄၅ မီတာ × ၁၃၂ မီတာ<br>- ၃ နှစ် |
| ၃။ | နှစ်စဉ်မြေငှားရမ်းခ | - ပထမနှစ်အတွက် အမေရိကန်ဒေါ်လာ ၂၄၉,၆၀၀<br>- ဒုတိယနှစ်အတွက် အမေရိကန်ဒေါ်လာ ၂၅၇,၀၈၈<br>- တတိယနှစ်အတွက် အမေရိကန်ဒေါ်လာ ၂၆၄,၈၀၀ |
| ၄။ | လုပ်ငန်းသက်တမ်း<br>တည်ဆောက်ရေးကာလ | - ကနဦး ၅၀ နှစ် (သက်တမ်းတိုး ၁၀ နှစ် ၂ ကြိမ်)<br>- ၂ နှစ် |
| ၅။ | စုစုပေါင်းမတည်ငွေရင်း ပမာဏ<br><br><br>စက်ပစ္စည်း<br>ပြည်ပ<br>ပြည်တွင်း<br>**စုစုပေါင်း** | -အမေရိကန်ဒေါ်လာ ၁၁၃.၉၃ သန်း (ချေးငွေ အမေရိကန်ဒေါ်လာ ၇၉.၆၃ သန်း ပါဝင်ပါသည်။<br><br>အမေရိကန်ဒေါ်လာ (သန်း)<br>၆၃.၉၃<br>၅၀.၀၀<br>**၁၁၃.၉၃** |
| ၆။ | ဝန်ထမ်းအင်အား (ပထမနှစ်)<br>ပြည်တွင်း<br><br>ပြည်ပ | - **၆၄ ဦး**<br>- ၆၁ဦး (တစ်လလျှင် ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ US$ ၁၀၀၊ အမြင့်ဆုံး လစာ US$ ၂,၀၀၀ ဖြစ်ပါသည်။)<br>- ၃ ဦး(တစ်လလျှင် ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံးလစာ |

| | | |
|---|---|---|
| | | US$ ၄၀၀၊ အမြင့်ဆုံးလစာ US$၂,၂၀၀ ဖြစ်ပါသည်။) |
| ၇။ | ဝင်ငွေ(ဆဌမမြောက်နှစ်)<br>အသုံးစရိတ်<br>(ဆဌမမြောက်နှစ်)<br>အသားတင်အမြတ်<br>(ဆဌမမြောက်နှစ်) | - US$ ၄၂.၁၉ သန်း<br>- US$ ၃၃.၁၂ သန်း<br><br>- US$ ၉.၀၇ သန်း |
| ၈။ | နိုင်ငံတော်မှ ရရှိမည့် အကျိုးအမြတ်(ဆဌမမြောက်နှစ်)<br>ဝင်ငွေခွန်<br>ကုန်သွယ်လုပ်ငန်းခွန်<br>အရင်းကြေကာလ<br>အရင်းအနှီးပေါ်အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) | <br><br>- US$ ၃.၀၉ သန်း<br>- US$ ၂.၀၁ သန်း<br>- ၉ နှစ်<br>- ၇.၂ % |
| ၉။ | နှစ်စဉ်လျှပ်စစ်ဓါတ်အားသုံးစွဲမှု | - ၁,၄၀၀,၀၀၀ units |
| ၁၀။ | အခြား | - လူမှုဘဝသာယာဝပြောရေး တာဝန်ယူမှု (Corporate Social Responsibility) အတွက် အသားတင်အမြတ်ငွေ၏ ၂ % ကို အသုံးပြုမည်ဖြစ်ကြောင်း တင်ပြထားပါသည်။<br>- မီးဘေးကာကွယ်ရေး စီမံချက် တင်ပြထားပါသည်။<br>- အဆိုပြုချက်နှင့်အတူ မြေငှားစာချုပ် (မူကြမ်း)၊ ချေးငွေစာချုပ် (မူကြမ်း)၊ ချေးငွေပြန်လည်ပေးဆပ်မည့် အစီအစဉ်၊ DHL Supply Chain Myanmar Ltd.၏ အမည်စစ်လျှောက်လွှာ၊ MOA၊ AOA (မူကြမ်း)၊ ဒါရိုက်တာစာရင်းနှင့် Layout Plan တို့အား တင်ပြထားပါသည်။<br>- အဆိုပြုလုပ်ငန်း ဆောင်ရွက်ရန်အတွက် ပြည်ပမှ အမေရိကန်ဒေါ်လာ ၆၃.၉၃ တန်ဖိုးရှိ ပစ္စည်းကိရိယာများကို (၁၀) နှစ်အတွင်း တင်သွင်းဆောင်ရွက်မည်ဖြစ်ပြီး နှစ်အလိုက် တင်သွင်းမည့်တန်ဖိုးများကို ဖော်ပြထားပါသည်။ |

## ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
## မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ မရက-၅ (အ) /န-၀၂၉/ ၂၀၁၇ (၂၁၂)

ရက်စွဲ၊ ၂၀၁၇ ခုနှစ် မေ လ ၁၁ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **DHL Supply Chain Myanmar Ltd. မှ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Supply Chain Management, Logistics and Warehousing Services ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းကိစ္စ**

၁။ နယ်သာလန်နိုင်ငံ Deutsche Post International B.V မှ ၉၉% နှင့် Exel Investments Netherland B.V မှ ၁% အစုရှယ်ယာ ထည့်ဝင်၍ DHL Supply Chain Myanmar Ltd. တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်စက်မှုဇုန်၊ ၁၀ လမ်း၊ မြေကွက်အမှတ်-၃၅၉ ရှိ ၄.၇၉ ဧကတွင် ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Supply Chain Management, Logistics and Warehousing Services လုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့ အဆိုပြုတင်ပြလာပါသည်။

၂။ အဆိုပြုချက်နှင့်အတူ DHL Supply Chain Myanmar Ltd. နှင့် မြေပိုင်ရှင် ဒေါ်အေးအေးမြင့်တို့ ချုပ်ဆိုမည့် မြေနှင့်အဆောက်အဦ ငှားရမ်းခြင်း သဘောတူစာချုပ်(မူကြမ်း)၊ မြေပိုင်ဆိုင်မှု အထောက်အထား၊ ချေးငွေစာချုပ်(မူကြမ်း)၊ ချေးငွေပြန်လည်ပေးဆပ်မည့် အစီအစဉ်၊ DHL Supply Chain Myanmar Ltd. ၏ အမည်စစ်ဆေးလျှောက်လွှာ၊ MOA၊ AOA (မူကြမ်း)၊ ဒါရိုက်တာ စာရင်းနှင့် Layout Plan တို့အား တင်ပြထားပါသည်။

၃။ လုပ်ငန်းဆောင်ရွက်မည့် ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်စက်မှုဇုန်၊ ၁၀ လမ်း၊ မြေကွက် အမှတ်-၃၅၉ ရှိ ဧက ရှိ မြေဧရိယာ ၄.၇၉ ဧက(၁၉,၃၈၅ စတုရန်းမီတာ) အား တစ်နှစ်လျှင် အမေရိကန်ဒေါ်လာ ၂၄၉,၆၀၀ နှုန်း (တစ်နှစ် တစ်စတုရန်းမီတာလျှင် အမေရိကန်ဒေါ်လာ ၁၂.၈၈ နှုန်း) ဖြင့် ငှားရမ်းဆောင်ရွက်မည်ဖြစ်ပါကြောင်း၊ (၃)နှစ် သက်တမ်းရှိ မြေငှားရမ်းခြင်းစာချုပ် (မူကြမ်း) အား ပူးတွဲတင်ပြထားပါသည်။

၄။ လုပ်ငန်းသက်တမ်း ကာလမှာ ကနဦး (၅၀)နှစ် ဖြစ်၍ (၁၀)နှစ် နှစ်ကြိမ် သက်တမ်းတိုး ဆောင်ရွက်မည်ဖြစ်ပါသည်။ ကော်မရှင်ခွင့်ပြုမိန့်ရရှိပြီးပါက လုပ်ငန်းများ စတင်ဆောင်ရွက်မည် ဖြစ်ပါသည်။

၅။ အဆိုပြုလုပ်ငန်း၏ စုစုပေါင်း ရင်းနှီးမြှုပ်နှံမှုပမာဏမှာ အမေရိကန်ဒေါ်လာ ၁၁၃.၉၃ သန်း ဖြစ်၍ ထိုင်းနိုင်ငံ DHL Supply Chain (Thailand) Limited မှ DHL Supply Chain Myanmar Ltd. သို့ အတိုးနှုန်း ၄% ဖြင့် ချေးငွေ အမေရိကန်ဒေါ်လာ ၇၉.၆၃ သန်း ပါဝင်ပါသည်။ အမေရိကန်ဒေါ်လာ ၆၃.၉၃ သန်း တန်ဖိုးရှိ စက်ပစ္စည်းကိရိယာများအား ပြည်ပမှ တင်သွင်းမည်ဖြစ်ပါသည်။

၆။ လုပ်ငန်းဆောင်ရွက်ရန် ဝန်ထမ်း ၆၄ ဦး ခန့်ထားမည်ဖြစ်ပြီး ပြည်တွင်းဝန်ထမ်း (၆၁) ဦး နှင့် ပြည်ပဝန်ထမ်း (၃) ဦး ခန့်ထားမည် ဖြစ်ပါသည်။ ပြည်တွင်းဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ US$ ၁၀၀၊ အမြင့်ဆုံး လစာ US$ ၂,၀၀၀ ဖြစ်ပြီး ပြည်ပဝန်ထမ်းတစ်ဦး၏ အနိမ့်ဆုံး လစာမှာ US$ ၄၀၀၊ အမြင့်ဆုံး လစာ US$ ၂,၂၀၀ ဖြစ်ကြောင်း တင်ပြထားပါသည်။

၇။ အဆိုပြုလုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်)တွင် ကုမ္ပဏီမှ ရရှိမည့် အကျိုးအမြတ်မှာ အောက်ပါအတိုင်း ဖြစ်ပါသည်-

| စဉ် | အကြောင်းအရာ | US$ (သန်း) |
|---|---|---|
| (က) | ဝင်ငွေ | ၄၂.၁၉ |
| (ခ) | အသုံးစရိတ် | ၃၃.၁၂ |
| (ဂ) | အသားတင်အမြတ် | ၉.၀၇ |

၈။ ဤလုပ်ငန်းကိုဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်မှ ပုံမှန်နှစ် (ဆဋ္ဌမမြောက်နှစ်)တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် US$ ၃.၀၉ သန်း နှင့် ကုန်သွယ်လုပ်ငန်းခွန် US$ ၂.၀၁ သန်း ဖြစ်ပါသည်။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၉)နှစ် ဖြစ်၍ အရင်းအနှီးအပေါ် အကျိုးအမြတ်ပြန်ပေါ်နှုန်း (IRR) မှာ ၇.၂ ရာခိုင်နှုန်း ဖြစ်ပါသည်။

၉။ အဆိုပြုလုပ်ငန်းနှင့်ပတ်သက်၍ တစ်ဖက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြားလာပါသည်-

(က) **ရန်ကုန်တိုင်းဒေသကြီးအစိုးရအဖွဲ့** **(နောက်ဆက်တွဲ-က)**

DHL Supply Chain Myanmar Ltd. မှ Supply Chain Management, Logistics and Warehousing Services လုပ်ငန်းဆောင်ရွက်ခြင်းနှင့် စပ်လျဉ်း၍ ၂၃-၂-၂၀၁၇ ရက်နေ့တွင် ကျင်းပပြုလုပ်သော အစည်းအဝေး အမှတ်စဉ် (၈/၂၀၁၇)၊ ဆုံးဖြတ်ချက်အပိုဒ်(၃၄)အရ ကန့်ကွက်ရန်မရှိကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

(ခ) **သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာ(နောက်ဆက်တွဲ-ခ)**

အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံး ဖြစ်စေမည့် နည်းစနစ်များကို အသုံးပြုရန်နှင့် အဆိုပြုလွှာတွင် ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံမှု (Corporate Social Responsibility CSR) အတွက် အသားတင်အမြတ်ငွေ၏ ၂% အသုံးပြုခြင်း အပါအဝင်ဆောင်ရွက်ပေးသွားမည့် ကတိကဝတ်များအား တိတိကျကျလိုက်နာ အကောင်အထည်ဖော်ဆောင်ရွက်ရန်၊ ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်း ဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/ စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှု စစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည့်တို့ ပါဝင်သည့် **ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)**ကို ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်စက်မှုဇုန်ရှိ အဆိုပြုလုပ်ငန်း ဆောင်ရွက်မည့်နေရာနှင့် Warehouse (၁၀) လုံး ထပ်မံတည်ဆောက်မည့် လုပ်ငန်းအတွက် နေရာကွဲပြားမှုအလိုက် သီးခြားစီခွဲ၍ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊ စီမံကိန်းဆောင်ရွက်သူများအနေဖြင့် ကနဦး ပတ်ဝန်းကျင်ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင် ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင်စီမံ

ခန့်ခွဲမှု အစီအစဉ်များ၊ အစီရင်ခံစာများ ရေးသားပြုစုရာတွင် ပြဋ္ဌာန်းထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသား ပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာဆောင်ရွက်ရမည့် အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက် ရန် သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။ **(ကုမ္ပဏီမှ သယံဇာတနှင့် သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေး ဝန်ကြီးဌာန၏ သဘောထားမှတ်ချက် နှင့်အညီ ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများကို လိုက်နာဆောင် ရွက်သွားမည် ဖြစ်ပါကြောင်း တင်ပြထားပါသည်။)**

(ဂ) **ပို့ဆောင်ရေးနှင့်ဆက်သွယ်ရေးဝန်ကြီးဌာန (နောက်ဆက်တွဲ-ဂ)**

အဆိုပြုလုပ်ငန်းနှင့်ပက်သတ်၍ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန ပိုင်မြေတွင် ပါဝင်ခြင်း မရှိပါသဖြင့် ကန့်ကွက်ရန် မရှိကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

(ဃ) **မြန်မာနိုင်ငံတော်ဗဟိုဘဏ် (နောက်ဆက်တွဲ-ဃ)**

DHL Supply Chain Myanmar Ltd. ၏ Capital Structure အရ Equity အဖြစ် ထည့်ဝင်မည့် အမေရိကန်ဒေါ်လာ (၃၄.၃၀) သန်း အနက် မတည်ငွေရင်း ထည့်ဝင်ထားခြင်းမရှိသေးပါသဖြင့် မတည်ရင်းနှီးငွေ (Equity) ထည့်ဝင်ပြီးမှသာ ချေးငွေအား ပြန်လည်လျှော့ထားရန် ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

၁၀။ Deutsche Post International B.V. နှင့် Exel Investment Netherlands B.V အမည်တို့ဖြင့် ING Commercial Banking တွင် ၂-၅-၂၀၁၆ ရက်စွဲဖြင့် ဘဏ်စာရင်းဖွင့်လှစ်ထားကြောင်း တင်ပြထားပါသည်။

၁၁။ မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်ရေးအတွက် မီးသတ်ဆေးဘူးများ ထားရှိမည်ဖြစ်ပြီး၊ ဝန်ထမ်းများအား မီးဘေးအရေးပေါ်ကာကွယ်နိုင်ရန် အရေးအပေါ် မီးသတ်နည်းပညာများ လေ့ကျင့်သင်ကြားပေးခြင်း ဆောင်ရွက်မည်ဖြစ်ကြောင်းတင်ပြထားပါသည်။

၁၂။ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေးစီမံချက်အစီအစဉ်၊ ဝန်ထမ်းများအတွက် လစာဝင်ငွေခွန်ပေးဆောင်မည့်အစီအစဉ်၊ လျှပ်စစ်ဓါတ်အားသုံးစွဲမှုအစီအမံတို့ကို တင်ပြထားပြီး လူမှုဘဝသာယာဝပြောရေး (Corporate Social Responsibility -CSR)အတွက် အသားတင်အမြတ်၏ ၂ % ထားရှိဆောင် ရွက်မည်ဖြစ်ကြောင်း တင်ပြထားပါသည်။

၁၃။ အဆိုပြုလုပ်ငန်းအားအဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၇ ခုနှစ် ဇန်နဝါရီလ ၂၃ ရက်နေ့တွင် ကျင်းပပြုလုပ်သော (၄/၂၀၁၇)အစည်းအဝေးသို့ တင်ပြခဲ့ပါသည်။

**စိစစ်တင်ပြချက်**

၁၄။ အဆိုပြုလုပ်ငန်း ဆောင်ရွက်ခြင်းနှင့်စပ်လျဥ်း၍ အောက်ပါအတိုင်း စိစစ်တင်ပြအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းနှင့် စပ်လျဥ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၆ ခုနှစ် နိုဝင်ဘာလ ၁၆ ရက်နေ့ ရက်စွဲပါ အမိန့်ကြော်ငြာစာအမှတ် ၁၂၃/၂၀၁၆ အရ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့် အညီ အဆိုပြုချက်တင်ပြလာခြင်းဖြစ်ပါသည်။

(ခ) အဆိုပြုလုပ်ငန်းအတွက် ရင်းနှီးမြှုပ်နှံမှု သက်တမ်းတစ်လျှောက် နှစ်အလိုက်တင်သွင်းမည့် ပစ္စည်းကိရိယာများအား တင်ပြထားပြီး ကုမ္ပဏီအနေဖြင့် တည်ဆောက်ရေး ကာလ (၂)နှစ်အတွင်း တင်သွင်းမည့် အမေရိကန်ဒေါ်လာ ၁၂.၈၉ သန်းတန်ဖိုးရှိ ပစ္စည်းကိရိယာများအတွက်သာ အကောက်ခွန် ကင်းလွတ်ခွင့်ခံစားနိုင်မည်ဖြစ် ကြောင်း စိစစ်တင်ပြအပ်ပါသည်။

(ဂ) အဆိုပြုချက်တွင် ဖော်ပြထားသည့် မြေနေရာတွင် လုပ်ငန်းဆောင်ရွက်ရန်အတွက် သိုလှောင်ရုံ (၁) လုံး တည်ဆောက်မည်ဖြစ်ပြီး လုပ်ငန်းအဆင်ပြေချောမွေ့စေရန် အ တွက် ကျန်အရပ်နေရာများတွင်လည်း သိုလှောင်ရုံများ တည်ဆောက်မည်ဖြစ်ကြောင်းတင်ပြထားပါသည်။

(ဃ) မြေငှားစာချုပ်ပါ သက်တမ်းကာလမှာ (၃) နှစ်ဖြစ်ပြီး သက်တမ်းတိုးတင်ပြထားခြင်း မရှိပါ။

(ဂ) ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများ ညွှန်ကြားမှုဦးစီးဌာန၊ မူဝါဒနှင့်ဥပဒေရေးရာဌာနခွဲမှ ကော်မရှင်ခွင့်ပြုမိန့်နှင့် ဆုံးဖြတ်ချက်(မူကြမ်း)တို့အား ဥပဒေနှင့်ညီညွတ်မှုရှိကြောင်း စိစစ်ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၅။ DHL Supply Chain Myanmar Ltd. မှ ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Supply Chain Management, Logistics and Warehousing Services လုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက်တင်ပြလာခြင်းကိစ္စအပေါ် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်မှ ခွင့်ပြုမိန့်ထုတ်ပေးရန် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူကို
ရုံးလက်ခံ

နောက်ဆက်တွဲ- က



# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# တိုင်းဒေသကြီးအစိုးရအဖွဲ့
# ရန်ကုန်တိုင်းဒေသကြီး

စာအမှတ်၊ ၃ / ၆ - ၃ (၇) / တိုင်းရင်းသား
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၈ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်
အမှတ်(၁)၊ သစ္စာလမ်း၊ ရန်ကင်းမြို့နယ်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံလာခြင်းကိစ္စ**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၃. ၂. ၂၀၁၇)ရက်စွဲပါစာအမှတ်၊ မရက-၅(အ)/ န-၀၂၉/၂၀၁၇(၀၆၆)

၁။ နယ်သာလန်နိုင်ငံ Deutsche Post International B.V မှ ၉၉% နှင့် Exel Investments Netherlands B.V မှ ၁% အစုရှယ်ယာထည့်ဝင်၍ မြန်မာနိုင်ငံတွင် ရာခိုင်နှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် DHL Supply Chain Myanmar Ltd. တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်စက်မှုဇုန်၊ ၁၀- လမ်း၊ မြေကွက်အမှတ်-၃၅၉ ရှိ မြေဧရိယာ ၄. ၇၉ ဧကကို ငှားရမ်း၍ Supply Chain Management, Logistics and Warehousing Services လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာမှုအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးနိုင်ပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်စပ်လျဉ်း၍ (၂၃. ၂. ၂၀၁၇) ရက်နေ့တွင်ကျင်းပပြုလုပ်သော ရန်ကုန်တိုင်းဒေသကြီး အစိုးရအဖွဲ့ အစည်းအဝေးအမှတ်စဉ် (၈/၂၀၁၇)၊ ဆုံးဖြတ်ချက်အပိုဒ် (၃၄)အရ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားပြန်ကြားအပ်ပါသည်။

ဝန်ကြီးချုပ် (ကိုယ်စား)
( နော်ပန်းသဉ္ဇာမျိုး၊ ကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး )

**မိတ္တူကို**

ရန်ကုန်တိုင်းဒေသကြီးကရင်တိုင်းရင်းသားလူမျိုးရေးရာဝန်ကြီး
ရန်ကုန်မြောက်ပိုင်းခရိုင်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
မင်္ဂလာဒုံမြို့နယ်အထွေထွေအုပ်ချုပ်ရေးဦးစီးဌာန
DHL Supply Chain Myanmar Ltd.
လက်ခံစာတွဲ/မျှောစာတွဲ

D/2017/Cabinet/8.(2)

နောက်ဆက်တွဲ- ခ

MY-0125
17/2/17




ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့
ရန်ကုန်မြို့
စာအမှတ်၊ ၀၀၁/ MIC(OSS) /၀၁(၈၅/၁၇)
ရက်စွဲ၊ ၂၀၁၇ ခုနှစ် ဖေဖော်ဝါရီလ ၁၇ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **DHL Supply Chain Myanmar Ltd. မှ Supply Chain Management, Logistcs and Warehousing Services လုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ သဘောထား မှတ်ချက် ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၃-၂-၂၀၁၇ ရက်စွဲပါစာအမှတ်၊ မရက-၅(အ)/ န-၀၂၉/ ၂၀၁၇ (၀၆၉)

၁။ နယ်သာလန်နိုင်ငံ Deutsche Post International B.V မှ ၉၉% နှင့် Exel Investments Netherlands B.V မှ ၁% အစုရှယ်ယာထည့်ဝင်၍ မြန်မာနိုင်ငံတွင် ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် DHL Supply chain Myanmar Ltd. တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်စက်မှုဇုန်၊ ၁၀ လမ်း၊ မြေကွက်အမှတ်- ၃၅၉ ရှိ မြေဧရိယာ ၄.၇၉ ဧက ကို ငှားရမ်း၍ Supply Chain Management, Logistics and Warehousing Services လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ စိစစ်ပြီး သဘောထား မှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ ပေးပို့လာသော ရင်းနှီးမြှုပ်နှံမှုဆိုင်ရာ အဆိုပြုလွှာအား စိစစ်ရာတွင် အောက်ပါအချက်များအား လေ့လာတွေ့ရှိရပါသည် -

(က) ပူးတွဲပေးပို့လာသော အဆိုပြုလွှာတွင် ကနဦးရင်းနှီးမြှုပ်နှံမှုကာလမှာ (၅၀) နှစ်ဖြစ်ပြီး၊ သက်တမ်းတိုးအား (၁၀) နှစ် (၂) ကြိမ်ဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊ တည်ဆောက်ရေးကာလမှာ (၂) နှစ် ဖြစ်ကြောင်း၊

(ခ) ဝန်ထမ်းသက်သာချောင်ချိရေးအစီအစဉ်၊ မီးဘေးကာကွယ်ရေး အစီအစဉ်များကိုလည်း ထည့်သွင်းဆောင်ရွက်သွားမည်ဖြစ်ကြောင်း၊

(ဂ) ကုန်ပစ္စည်းများထားသိုရာတွင်အသုံးပြုမည့်အဆောက်အဦ Warehouse ကိုတည်ဆောက်ပြီးဖြစ်ကာ လုပ်ငန်းအခြေအနေအရ အဆောက်အဦ (၁၀) လုံးကိုသီးခြား နေရာများတွင် ထပ်မံတည်ဆောက်ရန်ရှိပါကြောင်း၊

(ဃ) လုပ်ငန်းမှရရှိလာမည့် အသားတင်အမြတ် ငွေ (၂%) ကို လူမှုရေးဆိုင်ရာ တာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility -CSR) လုပ်ငန်းများတွင် ထည့်သွင်းအသုံးပြုသွားမည် ဖြစ်ကြောင်း၊

(င) သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် စပ်လျဉ်း၍ လုပ်ငန်းသဘောသဘာဝအရ စာနှင့်ကုန်ပစ္စည်းများကို ပို့ဆောင်ပေးသော ဝန်ဆောင်မှုလုပ်ငန်းဖြစ်ပါသဖြင့် ရာသီဉတုပြောင်းလဲမှုနှင့် ကမ္ဘာကြီးပူနွေးမှုကိုဖြစ်စေနိုင်သော ကာဗွန်ဒိုင်အောက်ဆိုဒ် ဓာတ်ငွေ့ ထုတ်လုပ်မှု

ကြောင့် ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှုမရှိစေရန် ဆန်းစစ်မှုအကျဉ်းပြုလုပ်ထားပြီး အဆိုပါလုပ်ငန်းများအတိုင်း ဆောင်ရွက်သွားမည်ဖြစ်ကြောင်း ဖော်ပြပါရှိပါသည်။

၃။ ရင်းနှီးမြှုပ်နှံရန်အဆိုပြုလာသော လုပ်ငန်းဆောင်ရွက်ခြင်းနှင့်စပ်လျဉ်း၍ အောက်ဖော်ပြပါပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှုများ ဖြစ်ပေါ်လာနိုင်ကြောင်း လေ့လာသုံးသပ်ရပါသည် -

(က) DHL Supply Chain Myanmar Lid. မှ Supply Chain Management, Logistcs and Warehousing Services လုပ်ငန်းဆောင်ရွက်ရာတွင် အသုံးပြုမည့် သယ်ယူပို့ဆောင်သည့် ယာဉ်ယန္တယားများမှ ထွက်ရှိလာမည့် ကာဗွန်ဒိုင်အောက်ဆိုဒ် ဓာတ်ငွေ့များကြောင့် ကမ္ဘာကြီးပူနွေးမှုနှင့် ရာသီဥတုပြောင်းလဲမှုဖြစ်ခြင်း၊

(ခ) အဆိုပြုလုပ်ငန်းအတွက် အဆောက်အဦ တည်ဆောက်ပြီး ဖြစ်သော်လည်း ထပ်မံတည်ဆောက်မည့်အဆောက်အဦ (၁၀) လုံးတည်ဆောက်ရာတွင် ပစ္စည်းသယ်ယာဉ်များ၊ စက်ယန္တရားများအသုံးပြုခြင်းကြောင့် ပတ်ဝန်းကျင်ရှိမြေထုနှင့်လေထုတို့ကို ညစ်ညမ်းမှုများနှင့် အသံဆူညံမှုများဖြစ်ပေါ်စေနိုင်ခြင်း၊

(ဂ) လုပ်ငန်းလည်ပတ်ပါက ရုံးခန်းသုံးစွန့်ပစ်ပစ္စည်းများနှင့် ဝန်ထမ်းများ၏အစားအသောက်မိလ္လာစသည့် စွန့်ပစ်ပစ္စည်း၊ အရည်များကြောင့် ပတ်ဝန်းကျင်ရှိ မြေထု၊ လေထုနှင့် ရေထုကိုညစ်ညမ်းမှုဖြစ်စေခြင်းစသည့် ပတ်ဝန်းကျင်ဆိုင်ရာထိခိုက်မှု ပြဿနာများဖြစ်ပေါ်လာနိုင်ပါသည်။

၄။ သို့ဖြစ်ပါ၍ DHL Supply Chain Myanmar Ltd. မှ Supply Chain Management, Logistcs and Warehousing Services လုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းကိစ္စနှင့်စပ်လျဉ်း၍ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဆောင်ရွက်ရမည့် လုပ်ငန်းများကို အောက်ပါအတိုင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည် -

(က) အဆိုပြုလုပ်ငန်းကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေးနှင့် ကျန်းမာရေးထိခိုက်ပျက်စီးမှုများကို လျော့နည်းစေရန်အတွက် လုပ်ငန်းဆိုင်ရာ အချက်အလက်များကို ပြည့်စုံစွာဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံးဖြစ်စေမည့် နည်းစနစ်များကိုအသုံးပြုရန်နှင့် အဆိုပြုလွှာတွင်ဖော်ပြထားသည့် လူမှုရေးဆိုင်ရာတာဝန်ခံဆောင်ရွက်မှု (Corporate Social Responsibility - CSR) အတွက် အသားတင်အမြတ်ငွေ၏ (၂) ရာခိုင်နှုန်း အသုံးပြုခြင်းအပါအဝင် ဆောင်ရွက်ပေးသွားမည့်ကတိကဝတ်များအား တိတိကျကျလိုက်နာ အကောင်အထည်ဖော် ဆောင်ရွက်ရန်။

(ခ) ပတ်ဝန်းကျင်နှင့် လူမှုရေးထိခိုက်မှု မဖြစ်ပေါ်စေရေး (သို့မဟုတ်) ထိခိုက်မှုအနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ် စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည် စီမံခန့်ခွဲမှုအစီအစဉ်၊ စောင့်ကြပ်ကြည့်ရှုစစ်ဆေးမည့် အစီအစဉ်၊ ပတ်ဝန်းကျင်ထိခိုက်မှု လျော့ပါးစေရေး ဆောင်ရွက်မည့် လုပ်ငန်းများအတွက် သုံးစွဲမည့်ရန်ပုံငွေ စသည်တို့ပါဝင်သည့် **ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီအစဉ်** (Environmental Management Plan-EMP) ကို ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်စက်မှုဇုန်ရှိ အဆိုပြုလုပ်ငန်းဆောင်ရွက်မည့်နေရာနှင့် Warehouse (၁၀) လုံးထပ်မံတည်ဆောက်မည့် လုပ်ငန်းအတွက် နေရာ

ကွဲပြားမှုအလိုက်သီးခြားစီခွဲ၍ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်းပါ အချက်အလက်များနှင့်အညီ ရေးဆွဲတင်ပြရန်နှင့် စီမံချက်ပါအတိုင်း အကောင်အထည် ဖော်ဆောင်ရွက်ရန်။

(ဂ) စီမံကိန်းဆောင်ရွက်မည့်သူများအနေဖြင့် ကနဦးပတ်ဝန်းကျင်ဆန်းစစ်ခြင်း၊ ပတ်ဝန်းကျင်ထိခိုက်မှုဆန်းစစ်ခြင်းနှင့် ပတ်ဝန်းကျင်စီမံခန့်ခွဲမှုအစီစဉ်များ၊ အစီရင်ခံစာများရေးသားပြုစုရာတွင် ပြဋ္ဌာန်း ထုတ်ပြန်ထားပြီးဖြစ်သော ပတ်ဝန်းကျင်ထိန်းသိမ်းရေး ဥပဒေ၊ နည်းဥပဒေ၊ ပတ်ဝန်းကျင်ထိခိုက်မှု ဆန်းစစ်ခြင်းဆိုင်ရာ လုပ်ထုံးလုပ်နည်း၊ အမျိုးသားပတ်ဝန်းကျင်ဆိုင်ရာ အရည်အသွေး (ထုတ်လွှတ်မှု) လမ်းညွှန်ချက်များတွင် ဖော်ပြပါရှိသည့် လိုက်နာ ဆောင်ရွက်ရမည့်အချက်များ၊ လုပ်ထုံးလုပ်နည်းများ၊ လမ်းညွှန်ချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရန်၊

(ဃ) သက်ဆိုင်ရာတိုင်းဒေသကြီး အစိုးရအဖွဲ့၏ ကြီးကြပ်ကွပ်ကဲမှုဖြင့် လုပ်ငန်းဆောင်ရွက်မည့် နေရာဒေသတွင် နေထိုင်သော ဒေသခံပြည်သူများ၏ ဆန္ဒနှင့် သဘောထားများကိုလည်းရယူ ဆောင်ရွက်ရန်။

(အောင်သူကျော်)
ဒုတိယညွှန်ကြားရေးမှူး
အဖွဲ့ခေါင်းဆောင်
ရင်းနှီးမြှုပ်နှံမှုဌာနဆိုင်ရာပူးပေါင်းလုပ်ငန်းအဖွဲ့

**မိတ္တူကို**

ပြည်ထောင်စုဝန်ကြီးရုံး
သယံဇာတနှင့်သဘာဝပတ်ဝန်းကျင်ထိန်းသိမ်းရေးဝန်ကြီးဌာန
ညွှန်ကြားရေးမှူးချုပ်၊ သစ်တောဦးစီးဌာန
ဦးဆောင်ညွှန်ကြားရေးမှူး၊ မြန်မာ့သစ်လုပ်ငန်း
ညွှန်ကြားရေးမှူးချုပ်၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန
ညွှန်ကြားရေးမှူး၊ ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန၊ ရန်ကုန်တိုင်းဒေသကြီး
ရုံးလက်ခံ

နောက်ဆက်တွဲ- ၈




ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာန
**ဝန်ကြီးရုံး**

စာအမှတ်၊ ရထ-၂/ရန (MIC)/၂၀၁၇( ၅၁၆ )
ရက် စွဲ၊ ၂၀၁၇ ခုနှစ်၊ ဖေဖော်ဝါရီလ ၂၂ ရက်

သို့

ဥက္ကဋ္ဌ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ သဘောထားမှတ်ချက်ပြန်ကြားခြင်း

ရည် ညွှန်း ချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၂၀၁၇ ခုနှစ်၊ ဖေဖော်ဝါရီလ (၁၃)ရက်စွဲပါ စာအမှတ်၊ မရက-၅(အ)/န-၀၂၉/၂၀၁၇(၀၆၇)

၁။ နယ်သာလန်နိုင်ငံ Deutsche Post International B.V မှ ၉၉% နှင့် Exel Investments Netherlands B.V မှ ၁% အစုရှယ်ယာထည့်ဝင်၍ မြန်မာနိုင်ငံတွင် ရာခိုင်နှုန်းပြည့် နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် DHL Supply Chain Myanmar Ltd. တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်စက်မှုဇုန်၊ ၁၀ လမ်း၊ မြေကွက်အမှတ်-၃၅၉ ရှိ မြေဧရိယာ ၄.၇၉ဧကကို ငှားရမ်း၍ Supply Chain Management, Logistics and Warehousing Services လုပ်ငန်းအား နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုနည်းဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် DHL Supply Chain Myanmar Ltd မှ အဆိုပြုတင်ပြလာမှုအပေါ် သဘောထား ပြန်ကြားပေးနိုင်ပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ ပို့ဆောင်ရေးနှင့် ဆက်သွယ်ရေးဝန်ကြီးဌာနပိုင်မြေတွင် ပါဝင်ခြင်း မရှိပါသဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၂၂/၂/၂၀၁၇

ပြည်ထောင်စုဝန်ကြီး (ကိုယ်စား)
(သူရအောင်မျိုးမြင့် - ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူ

- ကုန်းလမ်းပို့ဆောင်ရေးညွှန်ကြားမှုဦးစီးဌာန
- မြန်မာ့မီးရထား
- ကုန်းလမ်းပို့ဆောင်ရေး

D:\Section (2)_2017\2_61(MIC)_2017\2_61(MIC)_2017.doc

မ/၂ -၀၁၇၀
14.3.17



နောက်ဆက်တွဲ- ဃ

# ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
# မြန်မာနိုင်ငံတော်ဗဟိုဘဏ်

စာအမှတ်၊ အက်ဖ်အီး - ၃၉/ ၈၄
ရက်စွဲ၊ ၂၀၁၇ ခုနှစ်၊ မတ်လ ၆ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၃.၂.၂၀၁၇) ရက်စွဲပါ စာအမှတ်၊ မရက-၅(အ)/န-၀၂၉/၂၀၁၇(၀၆၈)

P. 357
... 3.17

နယ်သာလန်နိုင်ငံ Deutsche post International B.V မှ ၉၉ % နှင့် Excel Investments Netherlands B.V မှ ၁% အစုရှယ်ယာထည့်ဝင်၍ မြန်မာနိုင်ငံတွင် ရာနှုန်းပြည့်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် DHL Supply Chain Myanmar Ltd တည်ထောင်ကာ ရန်ကုန်တိုင်းဒေသကြီး၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်စက်မှုဇုန်၊ ၁၀ လမ်း တွင် မြေဧရိယာ ၄.၇၉ ဧကကို ငှားရမ်း၍ Supply Chain Management Logistics and Warehousing Services လုပ်ငန်းဆောင်ရွက်ရန်အတွက် ချေးငွေအမေရိကန်ဒေါ်လာ (၇၉.၆၃)သန်း ရယူရန် တင်ပြလာခြင်းနှင့်စပ်လျဉ်း၍ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်က သဘောထားမှတ်ချက် တောင်းခံလာခြင်းအပေါ်အောက်ပါအတိုင်း ပြန်ကြားအပ်ပါသည်-

"DHL Supply Chain Myanmar Ltd ၏ Capital Structure အရ Equity အဖြစ် ထည့်ဝင်မည့် အမေရိကန်ဒေါ်လာ (၃၄.၃) သန်းအနက် မတည်ငွေရင်း ထည့်ဝင်ထားခြင်း မရှိသေးသဖြင့် မတည်ရင်းနှီးငွေ (Equity) ထည့်ဝင်ပြီးမှသာ ချေးငွေအား ပြန်လည်လျှောက်ထားရန် ဖြစ်ပါသည်"

ဒုတိယဉက္ကဋ္ဌ ( ကိုယ်စား )
( ဝင်းသော် ၊ ညွှန်ကြားရေးမှူးချုပ် )

မိတ္တူကို

ဉက္ကဋ္ဌရုံး၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်
ဒုတိယဉက္ကဋ္ဌ(၁)၊ မြန်မာနိုင်ငံတော်ဗဟိုဘဏ်
ရုံးလက်ခံ
မျှောစာတွဲ

**ကုမ္ပဏီဒါရိုက်တာနှင့်အစုရှင်များ၏နေရပ်လိပ်စာစာရင်း**

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/အစုရှင်များ၏ အမည် | ဒါရိုက်တာ/အစုရှင်များ၏ ဆက်သွယ်ရန်လိပ်စာ |
|---|---|---|---|
| | DHL Supply Chain Myanmar Limited | (၁) Mr Kevin Stuart<br>Managing Director<br>British<br>510590543 | 209 K Tower A 11th , 18th Floor,Sukhumwit 21 Road (Asoke), Klongtoey-Nua, Wattana, Bangkok 10110, Thailand<br>မြေကွက်အမှတ်-၃၅၉၊ ၁၀ လမ်း၊ ရန်ကုန်စက်မှုဇုန်၊ မင်္ဂလာဒုံမြို့ နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| | | (၂) Mr Shisanupong Pitidhanyasawasdi<br>Director<br>AA4916347 | 99 Soi Bangkaradi 1, Samaedam, Bangkhuntian, Bangkok 10150, Thailand |
| | | (၃) Mr Thai Heng Siong<br>Director<br>A32892779 | 45/11, Ekanmai 28, Sukhumwit 63, 10110 Bangkok, Thailand |

၁။ ဆက်သွယ်ရမည့်တယ်လီဖုန်းနံပါတ် - ၀၉-၂၅၀၆၆၅၃၄၀

၂။ ဆက်သွယ်ရမည့်လိပ်စာအပြည့်အစုံ - မြေကွက်အမှတ်-၃၅၉၊ ၁၀ လမ်း၊ ရန်ကုန်စက်မှုဇုန်၊ မင်္ဂလာဒုံမြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး

၃။ ဆက်သွယ်ရမည့်ပုဂ္ဂိုလ်အမည်၊ ရာထူး - Mr Kevin Stuart (Managing Director)

၄။ ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ - Supply Chain Management, Logistics and Warehousing Services

၅။ ကုမ္ပဏီမှတ်ပုံတင်အမှတ်/နေ့စွဲ - ၉၇၉ အက်ဖ်စီ/၂၀၁၆-၂၀၁၇ (ရက) (၂၄-၁-၂၀၁၇)

၆။ ကုမ္ပဏီမှတ်ပုံတင်သက်တမ်းကုန်ဆုံးသည့်နေ့စွဲ - ၂၃-၇-၂၀၁၇

၇။ ဘဏ်အမည်နှင့်ဘဏ်စာရင်းအမှတ် - -